




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၀၁ /၂၀၀၁။ ၂၀၀၁ ခုနှစ်၊ ဇွန် လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးထွန်းလှိုင်

(ခ) အဘအမည် ဦးမြအောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမန(နိုင်) ၀၅၃၉၉၇

(ဃ) နေရပ်လိပ်စာ အမှတ်၂၉(က)၊ ၆-၀လမ်း၊ (ရ) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း နံနက်ခင်းနေမင်းအထည်ချုပ် ကုမ္ပဏီလီမိတက် ( Morning Sun Garment Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၁၀၉)၊ မဂ္ဂရာမင်းသားကြီး မောင်ပိုမင်းလမ်း၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၄၂.၃၄) သန်း( ကျပ်လေးဆယ့်နှစ်သန်းနှင့်သုံးသိန်း လေးသောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၅၂ /၂၀၀၁ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ ပထမဝါဆိုလဆန်း ၇ ရက်
(၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၇ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) တည်ထောင်၍ ဒေါ်လေးပို အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မင်္ဂလာရာမင်းသားကြီး မောင်ပျိုးလမ်း၊ မြေကွက် အမှတ် (၁၀၉)ရှိ မြေ(၀.၇၃၆၅)ဧက (၂၉၈၀.၅၁ စတုရန်းမီတာ)တွင် စက်ရုံတည်ဆောက်ပြီး CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၆-၄-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၀-၅-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး သဘောတူညီချက်အရ (၁၄-၆-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာ နိုင်ငံတော်အစိုးရအဖွဲ့၏ (၂၃/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) အား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၅၀၁/၂၀၀၁ကို ထုတ်ပေးလိုက်သည်။

၂။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြု နိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြား ငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ် ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေ ကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်း သုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြု သည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက်ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက် ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် လုပ်ငန်း အတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြား ငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၈။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၉။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) ကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) ၏ မတည်ငွေရင်းထည့်ဝင်မှုတွင် ဒေါ်လေးပို၏ အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည် ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာထည့်ဝင်မှုကိစ္စများ ဆောင်ရွက်ပြီးစီးသည့် အချိန်တွင် အဆိုပါမြေကွက်အား နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) ၏ အမည်ပေါက် ဖြစ်စေရေးအတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့လျှောက်ထားဆောင်ရွက်ရမည်။ မြေဂရန်ရရှိပါက ဂရန်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) မှ နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ ဘစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၈။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co.. Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနများမှချမှတ်ထားသောတည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၆၈၃/၂၀၀၁ (၂၄၉၅-က)
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၇ ရက်။

ဖြန့်ဝေခြင်း-
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ ဒါရိုက်တာ၊ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.)။



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်




## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၅၀၁.../၂၀၀၁။ ၂၀၀၁ ခုနှစ်၊ ဇွန် လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးထွန်းလှိုင်

(ခ) အဘအမည် ဦးမြအောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမန(နိုင်)၀၅၃၉၉၈

(ဃ) နေရပ်လိပ်စာ အမှတ် ၂၉(က)၊ ၆၀လမ်း၊ (၇)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း နံနက်ခင်းနေမင်းအထည်ချုပ် ကုမ္ပဏီလီမိတက် ( Morning Sun Garment Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၁၀၉)၊ မဏ္ဍရာမင်းသားကြီး မောင်ပို့လမ်း၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၄၂.၃၄)သန်း (ကျပ်လေးဆယ့်နှစ်သန်းနှင့်သုံးသိန်း လေးသောင်းတိတိ)

(signature)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၅၂ /၂၀၀၁ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ ပထမဝါဆိုလဆန်း ၇ ရက်
(၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၇ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) တည်ထောင်၍ ဒေါ်လေးပို အမည်ဖြင့် မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မကွေးရာမင်းသားကြီး မောင်ပျိုးလမ်း၊ မြေကွက် အမှတ် (၁၀၉)ရှိ မြေ(၀.၇၃၆၅)ဧက (၂၉၈၀.၅၁ စတုရန်းမီတာ)တွင် စက်ရုံတည်ဆောက်ပြီး CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၆-၄-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၀-၅-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး သဘောတူညီချက်အရ (၁၄-၆-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာ နိုင်ငံတော်အစိုးရအဖွဲ့၏ (၂၃/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) အား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၅၀၁/၂၀၀၁ကို ထုတ်ပေးလိုက်သည်။

၂။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြု နိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြား ငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ် ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေ ကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

လျှို့ဝှက်

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်း သုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြု သည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက်ကုန်ထုတ်လုပ်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက် ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက် ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် လုပ်ငန်း အတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြား ငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၈။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၉။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) ကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) ၏ မတည်ငွေရင်းထည့်ဝင်မှုတွင် ဒေါ်လေးပို၏ အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည် ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာ ထည့်ဝင်မှုကိစ္စများ ဆောင်ရွက်ပြီးစီးသည့် အချိန်တွင် အဆိုပါမြေကွက်အား နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) ၏ အမည်ပေါက် ဖြစ်စေရေးအတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနသို့လျှောက်ထားဆောင်ရွက်ရမည်။ မြေဂရန်ရရှိပါက ဂရန်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ၊ မဖြစ်ပေါ်လာစေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၈။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနများမှချမှတ်ထားသောကည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၆၉၃/၂၀၀၁ (၂၄၉၅-က)
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၅ ရက်။

ဖြန့်ဝေခြင်း-
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ ဒါရိုက်တာ၊ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morning Sun Garment Co., Ltd.)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၅၀/၂၀၀၁ (၁၁၅၆-၈)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၇ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morining Sun Garment Co., Ltd.) တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၆-၄-၂၀၀၁) နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၃၀-၅-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅၄)သန်း အပါအဝင် စုစုပေါင်းကျပ် (၄၂.၃၄)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို British Virgin Islands ရှိ Man Chung Lim Co., မှ ရှေ့ဆိုင်းငွေ ပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး အတိုးမဲ့ဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးဖြစ်သည့် ဒေါ်လေးပို အမည်ပေါက် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၂)၊ မဏ္ဍာရာမင်းသားကြီး မောင်မျိုးလမ်း၊ မြေကွက်အမှတ် (၁၀၈)ရှိမြေ (၀.၇၃၆၅) ဧက (၂၉၈၀.၅၁ စတုရန်းမီတာ) တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၆) ရာခိုင်နှုန်းအား CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် (၄) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု ဒါဇင် |
|---|---|---|
| ၁။ | Jacket | ၂၀၀၀၀ |
| ၂။ | Shirt | ၄၀၀၀၀ |
| ၃။ | T-Shirt | ၄၀၀၀၀ |
| ၄။ | Trousers | ၃၀၀၀၀ |
| ၅။ | Polo Shirt | ၂၀၀၀၀ |
| ၆။ | Swimming Suit, Blouse | ၁၀၀၀၀ |

၅။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၉)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၂၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန်

ကျပ် ၁.၀၇ သန်း

အမေရိကန်ဒေါ်လာ ၀.၁၆ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန်

ကျပ် ၅.၀၄ သန်း

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၅၉၀)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှု ဝန်ကြီး ဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ မှတ်ပုံတင် ဆောင်ရွက်နေခြင်း မရှိသေးကြောင်း အကြောင်းပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှု၊ ချေးငွေရယူမှုတို့အတွက် ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။

ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၅၀/၂၀၀၁ ( ၆ ၀ ၁ )။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၈ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morining Sun Garment Co., Ltd.) တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၆-၄-၂၀၀၁) နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅၄)သန်း အပါအဝင် စုစုပေါင်း ကျပ် (၄၂.၃၄)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၃.၀၅)သန်း၊ မြေတန်ဖိုး ကျပ် (၅.၁၅)သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၃၀.၀၀)သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၀.၉၀)သန်းနှင့် စက်ပစ္စည်း တန်ဖိုး ကျပ် (၃.၂၄)သန်း {အမေရိကန်ဒေါ်လာ (၀.၅၄)သန်း} ကို ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို British Virgin Islands ရှိ Man Chung Lim Co., မှ ရွှေဆိုင်းငွေ ပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး အတိုးမဲ့ဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးဖြစ်သည့် ဒေါ်လေးပို အမည်ပေါက် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၂)၊ မဏ္ဍရာမင်းသားကြီး မောင်မျိုးလမ်း၊ မြေကွက်အမှတ် (၁၀၉)ရှိမြေ (၀.၇၃၆၅) ဧက (၂၉၈၀.၅၁ စတုရန်းမီတာ) တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၆) ရာခိုင်နှုန်းအား CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် (၄) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု ဒါဇင် | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | | | CMP ချုပ်ခနှုန်း (US $/Dozen) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) |
| ၁။ | Jacket | ၂၀၀၀၀ | ၁၃.၂၀ | ၁၁၂၀၀ |
| ၂။ | Shirt | ၄၀၀၀၀ | ၆.၅၀ | ၁၀၀၀၀ |
| ၃။ | T-Shirt | ၄၀၀၀၀ | ၄.၅၀ | ၆၅၀၀ |
| ၄။ | Trousers | ၃၀၀၀၀ | ၉.၀၀ | ၁၁၀၀၀ |
| ၅။ | Polo Shirt | ၂၀၀၀၀ | ၄.၂၀ | ၆၈၂၅ |
| ၆။ | Swimming Suit, Blouse | ၁၀၀၀၀ | ၂.၂၀ | ၃၆၀၀ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၅၅.၄၆ | ၆.၂၂ | ၆၁.၆၈ |
| (ခ) | အသုံးစရိတ် | ၅၂.၈၇ | ၀.၉၃ | ၅၃.၉၀ |
| (ဂ) | အသားတင်အမြတ် | ၂.၄၉ | ၅.၂၉ | ၇.၇၈ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၉)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၂၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန်
ကျပ် ၁.၀၇ သန်း
အမေရိကန်ဒေါ်လာ ၀.၁၆ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန်
ကျပ် ၅.၀၄ သန်း

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၅၉၀)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှု ဝန်ကြီး ဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ မှတ်ပုံတင် ဆောင်ရွက်နေခြင်း မရှိသေးကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ လုပ်ငန်းမှ ရရှိသည့် ချုပ်ခရငွေဖြင့် ခုနှိမ်မည်ဖြစ်ကြောင်း၊ တင်သွင်းလာမည့် စက်ပစ္စည်းများသည် အသစ် ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morining Sun Garment Co., Ltd.) | ၁။ ဦးထွန်းလှိုင် (ဒါရိုက်တာ) | အမှတ် (၂၉/က)၊ လမ်း (၆၀)၊ (၇) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်လေးပို (ဒါရိုက်တာ) | အမှတ် (၂၉/က)၊ လမ်း (၆၀)၊ (၇) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးထွန်းလှဝင်း (ဒါရိုက်တာ) | အမှတ် (၉၇၂/ဂ)၊ ရွှေနှင်းဆီလမ်း၊ ၈ ဒု မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဒေါ်သင်းမာလှိုင် (ဒါရိုက်တာ) | အမှတ် (၉၇၂/ဂ)၊ ရွှေနှင်းဆီလမ်း၊ ၈ ဒု မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

စာအမှတ် ၂၉(၁)/၁၈(၁)(၆၀၁၀)/၂၀၀၀(၇၃၂၉)
ရက်စွဲ၊ ၂၀၀၀၊ ပြည့်နှစ် ဒီဇင်ဘာလ ၁၄ ရက်။

အကြောင်းအရာ။ သဘောထား မှတ်ချက်ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၀ပြည့်နှစ်၊ နိုဝင်ဘာလ ၃၀ ရက် နေ့စွဲပါစာအမှတ်၊ ရက -၁/မ-၆၉၃/၂၀၀၀(၂၆၆၄-၈)

၁။ နီနက်ခင်း နေမင်းအထည်ချုပ်ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်(၁၀၉)ရှိ မြေ ၁.၄၇၃ ဧက တွင်စက်ရုံတည်ဆောက်၍ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်လိုခြင်းအပေါ် ဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

၂။ နီနက်ခင်း နေမင်းအထည်ချုပ်ကုမ္ပဏီလီမိတက်အနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ မှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်းပါ ပြအစ်ပါသည်။

18/12

၁၄/၁၂/၂၀၀၀

ဝန်ကြီး ( )
( မြင့် ဆွေ၊ ရုံးအဖွဲ့မှူး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူကို-
ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထည်အလိပ်လုပ်ငန်း

ရွှေ/***

နံနက်ခင်းနေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက်

၏

အဆိုပြုချက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

**Morning Sun Garment Company Limited.**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်၊

ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၁ခုနှစ် ၊ ဇွန်လ ( ၇ )ရက် ။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်/ကျွန်မတို့၏ နံနက်ခင်းနေမင်း အထည်ချုပ် ကုမ္ပဏီလီမိတက်(Morning Sun Garment Co.,Ltd) သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်စက်မှုဇုံ(၂) ၊ မြေကွက်အမှတ် ( ၁၀၉ )တောင်ဖက်ခြမ်း၊ မက္ခရာမင်းသားကြီး မောင်ပျိုးလမ်း၊ တွင်နိုင်ငံတကာအဆင့်မီ အထည်ချုပ် စက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ခွင့် ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အတွက် အစိုးရအဖွဲ့အစည်းသို့ ဆက်လက်တင်ပြနိုင်ရန် အဆိုပြုလွှာ (၂၂)စုံ ဆက်လက်ပေးပို့လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးထွန်းလှိုင်

( ဒါရိုက်တာ )

နံနက်ခင်းနေမင်း အထည်ချုပ် ကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်၊

ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၂၀၀၁ခုနှစ် ၊ မေလ ( ၂ )ရက် ။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုချက်ပေးပို့ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်/ကျွန်မတို့၏ နံနက်ခင်းနေမင်း အထည်ချုပ် ကုမ္ပဏီလီမိတက်(Morning Sun Garment Co.,Ltd) သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်စက်မှုဇုံ(၂) ၊ မြေကွက်အမှတ် ( ၁၀၉ )တောင်ဖက်ခြမ်း၊ မဟာရာမင်းသားကြီး မောင်မျိုးလမ်း၊ တွင်နိုင်ငံတကာအဆင့်မီ အထည်ချုပ် စက်ရုံတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ခွင့် ပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အတွက် အထက်အဖွဲ့အစည်းသို့ ဆက်လက်တင်ပြနိုင်ရန် အဆိုပြုလွှာ (၁၈)စုံ ဆက်လက်ပေးပို့လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးထွန်းလှိုင်

( ဒါရိုက်တာ )

နံနက်ခင်းနေမင်း အထည်ချုပ် ကုမ္ပဏီလီမိတက်

Any notice required and given by either party to the other shall be deemed to have been delivered when properly acknowledged for receipt by the party either party may substitute or change its address in writing thereof to the other.

14.MODIFICATION

14.1 This Agreement shall not be annulled , amended or modified in any respect except by the mutual consent in writing by both Parties to this agreement.

IN WITNESS WHEREOF the Parties hereto have executed this Agreement according to the terms and conditions set forth on the date first above written.

For and on behalf of
" Party A "

U Tun Hlaing
Director
**Morning Sun Garment Co., Ltd.**

For and on behalf of
" Party B "

Mr. Po Luk Liu
Director
**Man Chung Lim Company.**

**In the Presence of**

----------------------------
----------------------------
----------------------------

------------------------
------------------------
------------------------

Annexure ( 1 )

# Morning Sun Garment Co ., Ltd.

## List of Machineries and Equipment (to be Imported)

| Sr No. | Particular | Unit | Qty | Price in (US$) | Value in (US$) |
|---|---|---|---|---|---|
| 1 | Single Needle machine | set | 300 | 375 | 112500 |
| 2 | Lock stitch single needle | set | 200 | 700 | 140000 |
| 3 | Double Needle machine | set | 25 | 1100 | 27500 |
| 4 | Single thread chain stitch button sewing machine | set | 10 | 600 | 6000 |
| 5 | Five Thread Over Lock Machine | set | 20 | 1250 | 25000 |
| 6 | Four Thread Over Lock Machine | set | 30 | 1000 | 30000 |
| 7 | Twin needle 4 thread interlock | set | 40 | 400 | 16000 |
| 8 | Twin needle 5 thread interlock | set | 40 | 450 | 18000 |
| 9 | Collor Positioning Machines | set | 2 | 1500 | 3000 |
| 10 | Collor Pressing Machines | set | 4 | 120 | 480 |
| 11 | Collor Turner Machines | set | 4 | 100 | 400 |
| 12 | Bar Tacking Machine | set | 10 | 750 | 7500 |
| 13 | Band Knife Cutting Machine | set | 6 | 1500 | 9000 |
| 14 | Hand knife (10") and ( 12" ) | set | 8 | 450 | 3600 |
| 15 | Cutting, tape machine | set | 3 | 450 | 1350 |
| 16 | Button Hole Machine | set | 6 | 2000 | 12000 |
| 17 | Button Machine | set | 3 | 1000 | 3000 |
| 18 | Steam Iron | set | 30 | 110 | 3300 |
| 19 | Electronic Boiler ( 35 KVA ) | set | 2 | 2750 | 5500 |
| 20 | Automatic boiler for 6 steam iron | set | 2 | 4210 | 8420 |
| 21 | Eyelet Button Hole Machine | set | 3 | 2000 | 6000 |
| 22 | Snapping Machine | set | 8 | 475 | 3800 |
| 23 | Electric Cutter | set | 3 | 1500 | 4500 |
| 24 | All Kinds of Scissors | unit | 500 | 5 | 2500 |
| 25 | Lock stitch button holder | set | 5 | 600 | 3000 |
| 26 | Packing Machine | set | 2 | 1500 | 3000 |
| 27 | Single Needle ( DB11 / DB14 / DB10 ) | Package | 2000 | 4 | 8000 |
| 28 | Over Lock ( DC11 /DC14 ) | Package | 1500 | 5 | 7500 |
| 29 | Double Needle DP-14 | Package | 500 | 4 | 2000 |
| 30 | Time Card Machine | set | 4 | 1000 | 4000 |
| 31 | Computer & Printer | set | 3 | 750 | 2250 |
| 32 | Copier | set | 1 | 1200 | 1200 |
| 33 | Generator (500 KVA ) | set | 1 | 59700 | 59700 |
| | Total | | | | 540000 |

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ ။ ၂၀၀၀ ပြည့်နှစ် ၊ နိုဝင်ဘာလ (၂၃) ရက်။

အကြောင်းအရာ ။ ။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်ထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း။**

**Morning Sun Garment Co., Ltd.** သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အထည်ချုပ် လုပ်ငန်းကိုလုပ်ကိုင်ဆောင်ရွက်ရန်ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

ဤလုပ်ငန်းအနေဖြင့်မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုအောက်ပါအတိုင်းစီမံဆောင်ရွက်သွားမည် ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(က) စက်ရုံဝင်းအတွင်းရေဂါလံ(၃၀၀၀)ဆန့်မြေအောက်ကွန်ကရစ်ရေကန်(**Underground Concrete Tank** ) ( ၂ ) လုံး ဆောက်လုပ်ပါမည်။

(ခ) ၄င်းရေကန်(၂) ကန်၏ အနီးတွင် အစဉ်သင့်အသုံး ပြုနိုင်ရန် **10 HP** ရှိမော်တာနှင့် ရေစုပ်စက် အပါအဝင် မီးသတ်ပိုက် နှင့်ပိုက်ခေါင်း ( ၂ ) စုံစီကိုထားရှိပါမည်။

(ဂ) စက်ရုံ အဆောက်အဦး(၁)လုံးအတွင်းတွင် မီးသတ်ဆေးဘူးများကိုတစ်လုံးနှင့်တစ်လုံး ၁၀ပေ အကွာစီ ထားရှိရပါမည်။

(ဃ) သဲပုံး၊ရေပုံးများအပါအဝင်မီးချိတ်၊မီးကတ် တို့ဖြင့်မီးသတ်စင်( ၅ ) စင်ကို စက်ရုံဝင်း အတွင်း သင့်တော်ရာနေရာ ( ၅ ) နေရာ တွင် အသင့်အနေအထားဖြင့် ထားရှိပါမည်။

(င) စက်ရုံ၏ဘေးထွက်ပစ္စည်းနှင့်အခြားအမှိုက်များကိုနေရာသတ်မှတ်၍ပုံထားပြီးမြို့နယ်စည်ပင်သာယာရေး ကော်မတီရုံး၏ ညွှန်ကြားချက်အရ အမှိုက်စွန့်ပစ်ခြင်းကိုပြုလုပ်ပါမည်။

(စ) မြို့နယ်မီးသတ်တပ်ဖွဲ့ မှ အခါအားလျော်စွာ ပို့ချသည့်အခြေခံမီးသတ်သင်တန်းများသို့စက်ရုံမှဝန်ထမ်း အလုပ်သမား (၁၀)ဦးကို တက်ရောက်စေပြီး ၄င်းတို့ကို အဖွဲ့ခေါင်းဆောင်များအဖြစ်တာဝန်ပေးအပ်ပြီး မီးကာကွယ် ငြိမ်းသတ်ရေးအဖွဲ့များဖွဲ့စည်းထားရှိမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးထွန်းလှိုင်

ဒါရိုက်တာ

နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီလီမိတက်






# မြေငှားစာချုပ်

10 JAN 1996

၁၉ ၉၆ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် [illegible] / ၉၆ အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် [illegible] မြို့နေ၊ ဦး [illegible] ၏၊ သား / သမီး ဖြစ်သော ဦး / ဒေါ် [illegible] အမျိုးသားမှတ်ပုံတင်အမှတ် [illegible] (နောက်တွင် "အငှားစာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့သည် ၁၃ ၅၇ ခုနှစ်၊ [illegible] လဆန်း / လပြည့်ကျော် ၂၂ ရက်နေ့၊ ၁၉ ၉၆ ခုနှစ်၊ ( [illegible] လ ၁၆ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှားစာချုပ်ရသူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ကတိသဘောခံချက်များကို ပြုသောကြောင့် လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကို ထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွ အငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်ရိုင်း (Quarries) စသည်တို့သည် ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားသော လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့် အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၁၆. ၁. ၁၉၉၆ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် ဆက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၁ ခုနှစ် [illegible] လ [illegible] ရက်နေ့၌ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် [illegible] ပြား [illegible] ( [illegible] ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလအပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃–တွင် ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော [illegible] သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆–လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန် ခိုင်ခံ့သော [illegible] ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေ [illegible] ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့်ရေပိုက်များ ချထားလျှင်၊ [illegible] ရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော [illegible] ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြ အတွင်းအဆိုပါ မြေကွက်ကို [illegible] အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် [illegible] ခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့်အဆောက်အအုံ၊ထိုအဆောက်အအုံနှင့်အမြဲတွဲကပ်ထားသောပစ္စည်းမပါဝင်စေဘဲ၊အဆိုပါမြေကွက်ကိုအငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂–အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၈ ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေ ကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ချုပ်ကို ပယ်ဖျက်၍အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။






17 MAR

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံးသိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက် စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ထိုအဆောက်အအုံနှင့်အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၁ ) ခုနှစ်၊ ________ လ၊ ( ၁၅ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံး သည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို ဆက်လက်ခြင်းမရှိစေလိုလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ [illegible] သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - [illegible]

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ဦးအုံးကျော်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးခိုင်လွင်

နှင့် ညွှန်ကြားရေးမှူး ဦးတင်ဝင်း

ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။




တို့

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ဦးထွန်းလင်း

အငှားစာချုပ်ရသူ [illegible] က လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

**အသိသက်သေ။**

၁။ (ညွှန်. လျှိ၆) ၁၄၇၀၄၉၁၉၅

၂။

အထက်တွင် ရည်ညွှန်းထားသည့် ဇယား

ခွင့်ပြုပြီးမြေပုံဖြစ်သော လိုင်စင်ရပ်ကွက်အမှတ် [illegible]

မြေတိုင်းရပ်ကွက်အမှတ်

ရန်ကုန်မြို့ [illegible] မြို့နယ်။

အတွင်းရှိ ________ တန်းစား၊ မြေကွက်အမှတ် ၁၀၉.

ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ________ ပေ၊ အနံ ________ ပေခန့်ရှိသော အလား အလာ

အရှေ့လားသော် [illegible] - ၁၃၆

အနောက်လားသော် [illegible]

တောင်လားသော် [illegible] - ၁၀၈

မြောက်လားသော် [illegible] - ၁၁၀

အတွင်းရှိ မြေအားလုံး ဧရိယာ [illegible] ဧက၊ (စတုရန်းပေ [illegible])



# MYANMAR ORIENTAL BANK LIMITED

မြန်မာအရှေ့တိုင်း ဘဏ် လီမိတက်

No. 166 - 168, Pansodan Street, Kyauktada Township, Yangon, Myanmar.

Phone : (095-1) 246 594 / 246 595 / 246 596
Fax : (095-1) 251 831 / 253 217

DATE.5th.Nov.2000.

**TO WHOM IT MAY CONCERN**

This is to certify that the balance at the credit of Saving Deposit A/C No (002.121.0028996) DAW THIN MAR HLAING NRC NO (12/BATAHTA(N)022983 ) with Myanmar Oriental Bank Limited ( Lanmadaw ) as on ( 5.11.2000 ) was K-5,01,000/- ( KYATS – FIVE LAKHS ONE THOUSAND ONLY.)

Your's Faithfully,

5/11/2000

( Khin Mg Kyi )
Manager
Myanmar Oriental Bank
(Lanmadaw Branch)




# MYANMAR ORIENTAL BANK LIMITED

မြန်မာအရှေ့တိုင်း ဘဏ် လီမိတက်

No. 166 - 168, Pansodan Street, Kyauktada Township, Yangon, Myanmar.

Phone : (095-1) 246 594 / 246 595 / 246 596
Fax : (095-1) 251 831 / 253 217


Date:7th November, 2000

We here by certify that the balance at the credit of Saving A/C No.SIT 3766 U TUN HLA WIN (NRC No.N/RGN.011793) with MYANMAR ORIENTAL BANK Limited as on 7th November,2000 is ( Ks.526,876/93 ) ( Kyats Five Hundred Twenty Six Thousand Eight Hundred Seventy Six and Pyas Ninety Three Only ).

7/11/2000

( Hla Kyi )
MANAGER
Myanmar Oriental Bank Limited



# MYANMAR ORIENTAL BANK LIMITED

မြန်မာအရှေ့တိုင်း ဘဏ် လီမိတက်

No. 166 - 168, Pansodan Street, Kyauktada Township, Yangon, Myanmar.

Phone (095-1) 246 594 / 246 595 / 246 596
Fax : (095-1) 251 831 / 253 217

Date: 17th November, 2000.

We here by certify that the balance at the credit of Saving A/c No. SIT.3755 KO TUN HLAING (NRC NO. N/RGN. 011792) with MYANMAR ORIENTAL BANK LIMITED as on 17th November, 2000 is ( Ks.515,830/06 ) ( Kyats Five Hundred Fifteen Thousand Eight Hundred Thirty and Pyas Six Only).

17/11/2000

( Hla Kyi )
MANAGER
Myanmar Oriental Bank Limited



To,

Registrar,
Companies Registration Office,
Ministry of National Planning & Economic Development,
Yangon.

Dated. the 15th November 2000

Sir,

I hereby submit the following documents for Registration which are required under the Myanmar Companies Act.

Should you need further information regarding documents, I am pleased to furnish them without any hesitation.

1. Memorandum of Association.
2. Articles of Association.
3. Declaration of registration.
4. Declaration of registered office.
5. Declaration of legal version.
6. Translation of Certificate.
7. Company's (3) main objects.
8. List of directors.
9. Undertaking.

15-11-2000

Yours sincerely,

(Director)
U TUN HLAING

MORNING SUN GARMENT COMPANY LIMITED

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၅၀/ ၂၀၀၁ ( ၆ ၀ ၁ )။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၈ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morining Sun Garment Co., Ltd.) တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၆-၄-၂၀၀၁) နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅၄)သန်း အပါအဝင် စုစုပေါင်း ကျပ် (၄၂.၃၄)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၃.၀၅)သန်း၊ မြေတန်ဖိုး ကျပ် (၅.၁၅)သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၃၀.၀၀)သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး ကျပ် (၀.၉၀)သန်းနှင့် စက်ပစ္စည်း တန်ဖိုး ကျပ် (၃.၂၄)သန်း {အမေရိကန်ဒေါ်လာ (၀.၅၄)သန်း} ကို ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို British Virgin Islands ရှိ Man Chung Lim Co., မှ ရှေ့ဆိုင်းငွေ ပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး အတိုးမဲ့ဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးဖြစ်သည့် ဒေါ်လေးပို အမည်ပေါက် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၂)၊ မက္ခရာမင်းသားကြီး မောင်မျိုးလမ်း၊ မြေကွက်အမှတ် (၁၀၉)ရှိမြေ (၀.၇၃၆၅) ဧက (၂၉၈၀.၅၁ စတုရန်းမီတာ) တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

လျှို့ဝှက်

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၆) ရာခိုင်နှုန်းအား CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် (၄) ရာခိုင်နှုန်းအား ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု ဒါဇင် | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | | | CMP ချုပ်ခနှုန်း (US $/Dozen) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) |
| ၁။ | Jacket | ၂၀၀၀၀ | ၁၃.၂၀ | ၁၁၂၀၀ |
| ၂။ | Shirt | ၄၀၀၀၀ | ၆.၅၀ | ၁၀၀၀၀ |
| ၃။ | T-Shirt | ၄၀၀၀၀ | ၄.၅၀ | ၆၅၀၀ |
| ၄။ | Trousers | ၃၀၀၀၀ | ၉.၀၀ | ၁၁၀၀၀ |
| ၅။ | Polo Shirt | ၂၀၀၀၀ | ၄.၂၀ | ၆၈၂၅ |
| ၆။ | Swimming Suit, Blouse | ၁၀၀၀၀ | ၂.၂၀ | ၃၆၀၀ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၅၅.၄၆ | ၆.၂၂ | ၆၁.၆၈ |
| (ခ) | အသုံးစရိတ် | ၅၂.၉၇ | ၀.၉၃ | ၅၃.၉၀ |
| (ဂ) | အသားတင်အမြတ် | ၂.၄၉ | ၅.၂၉ | ၇.၇၈ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၉)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၃.၂၀)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် — ကျပ် ၁.၀၇ သန်း; အမေရိကန်ဒေါ်လာ ၀.၁၆ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၅.၀၄ သန်း

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၅၉၀)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှု ဝန်ကြီး ဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ မှတ်ပုံတင် ဆောင်ရွက်နေခြင်း မရှိသေးကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ လုပ်ငန်းမှ ရရှိသည့် ချုပ်ခရငွေဖြင့် ခုနှိမ်မည်ဖြစ်ကြောင်း၊ တင်သွင်းလာမည့် စက်ပစ္စည်းများသည် အသစ် ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

လျှို့ဝှက်

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | နံနက်ခင်း နေမင်း အထည်ချုပ် ကုမ္ပဏီ လီမိတက် (Morining Sun Garment Co., Ltd.) | ၁။ ဦးထွန်းလှိုင် (ဒါရိုက်တာ) | အမှတ် (၂၉/က)၊ လမ်း (၆၀)၊ (၇) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်လေးပို (ဒါရိုက်တာ) | အမှတ် (၂၉/က)၊ လမ်း (၆၀)၊ (၇) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးထွန်းလှဝင်း (ဒါရိုက်တာ) | အမှတ် (၉၇၂/ဂ)၊ ရွှေနှင်းဆီလမ်း၊ ၈ ဒိုင် မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဒေါ်သင်းမာလှိုင် (ဒါရိုက်တာ) | အမှတ် (၉၇၂/ဂ)၊ ရွှေနှင်းဆီလမ်း၊ ၈ ဒိုင် မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

စာအမှတ် ၂၉(၁)/၁၈(၁)(၆၀၇၀)/၂၀၀၀(၇၃၂၉)

ရက်စွဲ၊ ၂၀၀၀၊ ပြည့်နှစ် ဒီဇင်ဘာလ ၁၄ ရက်။

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၀ပြည့်နှစ်၊ နိုဝင်ဘာလ ၃၀ ရက် နေ့စွဲပါစာအမှတ်၊ ရက - ၁/ မ - ၆၉၃/ ၂၀၀၀( ၂၆၆၄ - ၈ )

၁။ နီနက်ခင်း နေမင်း အထည်ချုပ်ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်( ၂ )၊ မြေကွက်အမှတ်( ၁၀၉ ) ရှိ မြေ ၁.၄၇၃ ဧက တွင် စက်ရုံတည်ဆောက်၍ C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင် လိုခြင်း အပေါ် ဤဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်း သဘော ထား ပြန်ကြားအပ်ပါသည်။

၂။ နီနက်ခင်း နေမင်း အထည်ချုပ်ကုမ္ပဏီလီမိတက်အနေဖြင့်ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီမှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်းဖော်ပြအပ်ပါသည်။

18/12

ဝန်ကြီး ( )
( မြင့်ဆွေ၊ ဗိုလ်မှူးချုပ် )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို - ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထည်အလိပ်လုပ်ငန်း

ရွှေ/ * * *

လုပ်ငန်း စီမံကိန်း အဆိုပြုချက်ပါ အဓိကအချက်များ

( မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ )

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | နံနက်ခင်း နေမင်း အထည်ချုပ်ကုမ္ပဏီလီမိတက် ( Morning Sun Garment Co., Ltd. ) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | ဦး ထွန်း မြိုင် |
| ၃ | အဆိုပြုလုပ်ငန်း အမျိုးအစား | C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း |
| ၄ | တည်နေရာ | မြေကွက်အမှတ်(၁၀၉)၊ မဟာရာမင်းသားကြီး မောင်မျိုးလမ်း၊ ရပ်ကွက်(၂)၊ ဘိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၄၂.၃၄ သန်း ( US$ ၀.၅၄ သန်းအပါအဝင် ) |
| | - ငွေသား | ကျပ် ၃.၀၅ သန်း |
| | - စက်ပစ္စည်း | ကျပ် ၃.၂၄ သန်း ( US$ ၀.၅၄ သန်း ) |
| | - အဆောက်အဦ | ကျပ် ၃၀.၀၀ သန်း |
| | - မြေ | ကျပ် ၅.၁၅ သန်း |
| | - ပရိဘောဂ | ကျပ် ၀.၉၀ သန်း |
| ၆ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၀.၇၃၆၅ ဧက ( ၂၉၀၀.၅၁၀ စတုရန်းမီတာ ) |
| | - မြေပိုင်ဆိုင်မှု | မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကုမ္ပဏီဒါရိုက်တာတစ်ဦး ဖြစ်သူ ဒေါ်လေးပို အမည်ပေါက် အသုံးပြုခွင့်ရရှိထားသည့် မြေ ( မြေကိုမတည်ငွေအဖြစ်ထည့်ဝင်ထားပါသည်။ ) |
| | - မြေအမျိုးအစား | စက်မှုမြေ |
| ၇ | ထုတ်လုပ်မှု( ပုံမှန်နှစ်) | ဒါဇင် |
| | - Jacket | ၂၀၀၀၀ |
| | - Shirt | ၄၀၀၀၀ |
| | - **T. Shirt** | ၄၀၀၀၀ |
| | - **Trousers** | ၃၀၀၀၀ |
| | - Polo Shirt | ၂၀၀၀၀ |
| | - Swimming Suit, Blouse, etc. | ၁၀၀၀၀ |
| | | ၁၆၀၀၀၀ ( တစ်ဦးချင်းတစ်နှစ်ပျမ်းမျှ ၂၆၆ ဒါဇင်နှုန်း ရှိပါသည်။) |

| | | | |
|---|---|---|---|
| ၁၀။ | ရောင်းချမည့်နည်း စနစ် | | |
| | - ပြည်တွင်း ရောင်း | ၄ % | |
| | - CMP စနစ်ဖြင့် | ၉၆ % | |
| ၉။ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | ပြည်တွင်းရောင်း (ကျပ်/ဒါဇင်) | C M P ရရှိငွေနှုန်း (US$/Dz) |
| | - Jacket | ၁၁၂၀၀ | ၁၃.၂၀ |
| | - Shirt | ၁၀၀၀၀ | ၆.၅၀ |
| | - T. Shirt | ၆၅၀၀ | ၄.၅၀ |
| | - Trousers | ၁၀၀၀၀ | ၆.၀၀ |
| | - Polo Shirt | ၆၈၂၅ | ၄.၂၀ |
| | - Swimming Suit, Blouse etc. | ၃၆၀၀ | ၂.၂၀ |
| ၁၀ | ဝင်ငွေ (ပုံမှန်နှစ်) | ကျပ် ၅၅.၄၆ သန်း<br>US$ ၁.၀၄ သန်း | |
| ၁၁ | အသားတင်အမြတ် (ပုံမှန်နှစ်) | ကျပ် ၂.၄၉ သန်း<br>US$ ၀.၈၈ သန်း | |
| ၁၂ | အရင်း ကြေကာလ | (၃) နှစ် (၉) လ | |
| ၁၃ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း ( IRR ) | (၂၃.၂၀) ရာခိုင်နှုန်း | |
| ၁၄ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် | ကျပ် ၁.၀၇ သန်း<br>US$ ၀.၁၆ သန်း | |
| | - ကုန်သွယ်လုပ်ငန်းခွန် (ပြည်တွင်း ရောင်းရငွေအပေါ် ၁၀ %) | ကျပ် ၅.၀၄ သန်း | |
| ၁၅ | ဝန်ထမ်း အင်အား | ၅၉၅ ဦး | |
| | - ပြည်တွင်း | ၅၉၀ ဦး | |
| | - ပြည်ပ | ၅ ဦး | |

| | | |
|---|---|---|
| ၁၆ | တည်ဆောက်မှုကာလ | (၁၂)လ |
| ၁၇ | အခြား | - စက်ပစ္စည်းများကို British Virgin Islands ရှိ Man Chung Lim Co. မှ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်ရယူမည်ဖြစ်ပြီး အတိုးမဲ့ဖြင့်(၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်းစာရင်းကိုပူးတွဲတင်ပြထားပါသည်။<br>- အမှတ်(၁)စက်မှုဝန်ကြီးဌာနသို့လ တောတား မှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်းနှင့်ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီမှတ်ပုံတင်ဆောင်ရွက်နေခြင်းမရှိသေးပါကြောင်း ပြန်ကြားလာပါသည်။ (ပူးတွဲ)<br>- မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှအဆိုပါမြေကွက်၏ မြောက်ဘက်ခြမ်းတွင်(၆၀'×၂၄၀')အရွယ်အစား စက်ရုံအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်ရန်ကုန်ကြာပန်း အထည်ချုပ်ကုမ္ပဏီလီမိတက်မှလုပ်ငန်းဆောင်ရွက်နေပြီး တောင်ဘက်ခြမ်းတွင်(၈၀'×၂၄၀') ရှိသုံးထပ်စက်ရုံအဆောက်အဦတစ်လုံး ဆောက်လုပ်ဆဲရှိပါကြောင်း စက်ရုံ(၂)ခုအကြား စည်းရိုးကာရံထားရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးကြောင်းနှင့်လုပ်ငန်းဆောင်ရွက်ရန်ခွင့်လျှောက်သည်ဟုယူဆပါကြောင်း သဘောထားပြန်ကြားလာပါသည်။ (ပူးတွဲ)<br>- ယင်းလုပ်ငန်း၏ငွေကြေး ထောက်အထားအဖြစ် မြန်မာအရှေ့တိုင်းဘဏ်လီမိတက်ရှိဒါရိုက်တာများဖြစ်သည့်ဦးထွန်းဘိုင်၊ ဒေါ်သင်းမာဘိုင်နှင့် ဦးထွန်းဘဝင်းတို့၏ ၂၀၀၀ပြည့်နှစ်၊ နိုဝင်ဘာလရှိ ငွေလက်ကျန်စုစုပေါင်း ကျပ်(၁.၁၄)သန်း |

ရှိကြောင်း တင်ပြထားပါသည်။

- ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာ လျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော် မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းများအား လိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်း မှုနှင့် ဘေးအန္တရာယ်များ မဖြစ်ပွားစေ ရန် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင် ခြင်း မရှိဘဲ လုပ်ငန်းမှ ရရှိသည့် ချုပ်ခရငွေဖြင့် ခုနှိမ်မည်ဖြစ်ကြောင်း၊ တင်သွင်းလာမည့်စက် ပစ္စည်းများသည် အသစ်ဖြစ်ကြောင်းနှင့် ယင်း လုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။
- ပူးတွဲပါ ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုရန် လျှောက်ထားလာပါသည်။
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့် ပြုမိန့်ထုတ်ပေးပြီး အထည်ချုပ်လုပ်ငန်း ပေါင်း (၁၄၁) ခုရှိပြီးဖြစ်ပါသည်။ ယခုအဆိုပြုလုပ်ငန်း အပါအဝင်တင်ပြထားသည့်အထည်ချုပ်လုပ်ငန်း(၂၀) ခုရှိပါသည်။
- နံနက်ခင်း နေမင်း ကုမ္ပဏီ လီမိတက် ( ၄ ) ဦး အနက် ဦးထွန်းမြိုင်နှင့် လေး ပိုတိုနှစ်ဦးသည် ရန်ကုန်ကြာပန်း အထည်ချုပ်ကုမ္ပဏီလီမိတက်အဖွဲ့ ဝင်များအဖြစ်ပါဝင်ပြီး ဒေါ်လား ပိုအမည် ပေါက်ရန်ကုန်တိုင်း၊ မြိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၂) အကွက်အမှတ် ( ၁၀၆ ) ရှိ မြေ ( ၁,၄၇၃ ) ဧက

| | | |
|---|---|---|
| | | သည့်ရန်ကုန်ကြာပန်း အထည် ချုပ်ကုမ္ပဏီက ငွေတန်ဖိုး ကျပ် (၁၀.၃၀) သိန်း ဖြင့် တန်ဖိုး သင့်ငွေမတည်ထည့် ဝင်လာပြီး ဖြစ်ပါသည်။ ရန်ကုန်ကြာပန်း အထည် ချုပ်ကုမ္ပဏီလီမိတက်သည်မြန်မာနိုင်ငံသား များရင်း နှီး မြှုပ်နှံမှုဥပဒေအရ (၂၀-၄-၂၀၀၀) နေ့စွဲ ပါခွင့်ပြုမိန့်အမှတ်၊ မနသ-၃၆၆/၂၀၀၀ ဖြင့်ခွင့် ပြုမိန့်ရရှိပြီး ဖြစ်ပါသည်။ |

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ ပြည်ပသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ် (၅၀ %) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုး လုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလ အထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်း မရှိဟုသုံးသပ်ရပါသည်။



*ဟ၃/၁၀

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိမည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုက် နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း တင်သွင်းလာသည့်စက်ပစ္စည်း များ အပေါ် အကောက်ခွန် နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့် ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်တင်သွင်းသည့်လုပ်ငန်း သုံး ပစ္စည်း များ အပေါ်တွင်အကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်သည့်ပစ္စည်း များ ပြည်ပ သို့တင်ပို့ရောင်း ချမှုအပေါ် ကုန်သွယ်လုပ်ငန်း ခွန်ကင်းလွတ် ခွင့်နှင့်စပ်လျဉ်း၍ CMP စနစ်ဖြင့်ထုတ်လုပ်သည့်ပစ္စည်းများ အား ပြည်ပသို့တင်ပို့ရောင်း ချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန် ကင်း လွတ်ခွင့်ပြုသင့်ပါသည်။



ဝင်း / *



R-၁၇၅၃
၁၅/၁၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

စာအမှတ် ၂၉(၁)/၁၈ (၁)(၆၀၇၀)/၂၀၀၀(၇၃၂၉)

ရက်စွဲ၊ ၂၀၀၀၊ ပြည့်နှစ် ဒီဇင်ဘာလ ၁၄ ရက်။

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၀ပြည့်နှစ်၊ နိုဝင်ဘာလ ၃၀ ရက် နေ့စွဲပါစာအမှတ်၊ ရက -၁/မ-၆၉၃/၂၀၀၀(၂၆၆၄-၈)

၁။ နံနက်ခင်း နေမင်း အထည်ချုပ်ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်(၁၀၉) ရှိ မြေ ၁.၄၇၃ ဧကတွင် စက်ရုံတည်ဆောက်၍ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်လိုခြင်းအပေါ် ဤဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

၂။ နံနက်ခင်း နေမင်း အထည်ချုပ်ကုမ္ပဏီလီမိတက်အနေဖြင့်ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီမှတ်ပုံတင်ဆောင်ရွက်နေခြင်းမရှိသေးပါကြောင်းဖော်ပြအပ်ပါသည်။

18/12

ဝန်ကြီး ( )
( မြင့်ဆွေ၊ ဝိုင်းအဖွဲ့မှူး )

DD(C/A)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို - ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထည်အလိပ်လုပ်ငန်း

19.12

ရွှေ/***




ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
**မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန**
အမှတ်၊ ၂၂၈-၂၄၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။


စာအမှတ်၊ စီမံ/နသစ/ပစလ ၁(၁)/၂၀၀၁/( ၁၁၃ )
ရက်စွဲ။ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၉ ရက်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၁-၂၀၀၀ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၆၉၃/၂၀၀၀(၂၆၆၄-အ)

၁။ ရန်ကုန်တိုင်း၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၂)၊ မြေကွက်အမှတ်(၁၀၉)၊ ဧရိယာ(၁.၄၇၃)ဧကရှိ မြေပေါ်တွင် နံနက်ခင်းနေမင်းအထည်ချုပ်ကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်း၍၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့်သဘောထား မှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပြုမြေကွက်ကိုစစ်ဆေးရာ မြေကွက်၏မြောက်ဘက်ခြမ်းတွင်(၆၀'×၂၄၀') အရွယ်အစားရှိစက်ရုံတည်ဆောက်ထားပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် မနသ-၃၆၆/၂၀၀၀ (၂၀-၄-၂၀၀၀)ဖြင့်ရန်ကုန်ကြာပန်းအထည်ချုပ်ကုမ္ပဏီလီမိတက်မှလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။

၃။ တောင်ဘက်ခြမ်းတွင်အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်(၈၀'×၂၄၀') အရွယ်အစားရှိသုံးထပ်စက်ရုံတစ်ရုံတည်ဆောက်လျက်ရှိကြောင်း တွေ့ရှိရပါသည်။

၄။ ၎င်းစက်ရုံ(၂)ရုံကြားတွင်စည်းရိုးကာရံထားကြောင်းနှင့်အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နေခြင်းမရှိသေးကြောင်း တွေ့ရှိရပါသည်။

၅။ အဆိုပြုမြေပေါ်တွင် ဖော်ပြပါလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုရန်သင့်လျော်သည်ဟုယူဆပါကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင်ပြနိုင်ရန်တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သန်းကျော်-ညွှန်ကြားရေးမှူး၊ စီမံခန့်ခွဲရေး+အိမ်ရာ)

<u>ဝန်ကြီးရုံး၊</u>
<u>ဆောက်လုပ်ရေးဝန်ကြီးဌာန</u>။

မိတ္တူကို- (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
(၂) စီမံကိန်းမန်နေဂျာ၊ လှိုင်သာယာစက်မှုဇုန်
(၃) ရုံးလက်ခံ